ပုံစံ (မနသ-၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊မနသ-၁၂၂၂/၂၀၁၆ | ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ချိုင်ချန်ဝှက် (ခ) ဦးထွန်းလှိုင်

(ခ) အဘ အမည် ဦးမြင့်ဆွေ

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/လသန(နိုင်) ၀၀၀၈၇၃

(ဃ) နေရပ်လိပ်စာ အမှတ် (၈၀)၊ ကျွန်းတောလမ်း၊ ကျွန်းတောအလယ်ရပ်ကွက်၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း မဟာဘားအံထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (MAHAR HPA AN PRODUCTION COMPANY LIMITED)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား CMP စနစ်ဖြင့် အမျိုးသမီးအတွင်းခံဝတ် အမျိုးမျိုးအား တစ်စိတ်တစ်ပိုင်းချုပ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ) မြေကွက်အမှတ် ၁၊ ၂၊ ၃၊ ၄၊ ဘားအံ စက်မှုဇုန် (၃)၊ စံဖရီးကျေးရွာအုပ်စု၊ ဘားအံမြို့နယ်၊ ကရင်ပြည်နယ်ရှိ မြေဧရိယာ (၆.၀၂၄) ဧက

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ကျပ်သန်း ၁၂၀၀ (US$ ၀.၀၁၆ သန်း အပါအဝင်) (ကျပ်သန်းပေါင်း တစ်ထောင့်နှစ်ရာခန့်)

(ဈ) တည်ဆောက်မှုကာလ ၃ လ

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## အမိန့်ကြော်ငြာစာအမှတ်၊ ၁၁၅ / ၂၀၁၆(မနသ)
## ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Mahar Hpa An Production Company Limited) သည် ကရင်ပြည်နယ်၊ ဘားအံမြို့နယ်၊ စံဖရိုးကျေးရွာအုပ်စု၊ ဘားအံစက်မှုဇုန် (၃)၊ မြေကွက်အမှတ် ၁၊ ၂၊ ၃၊ ၄ ရှိ မြေဧရိယာ ၆.၀၂၄ ဧက (၂၄၃၇၈.၂၈ စတုရန်းမီတာ) တွင် CMP စနစ်ဖြင့် အမျိုးသမီးအတွင်းခံဝတ်အမျိုးမျိုးအား တစ်စိတ်တစ်ပိုင်းချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်ကို ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၂၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၀/၂၀၁၆) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် မဟာဘားအံထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Mahar Hpa An Production Company Limited) ကို CMP စနစ်ဖြင့် အမျိုးသမီးအတွင်းခံဝတ် အမျိုးမျိုးအား တစ်စိတ်တစ်ပိုင်းချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၂၂၂/၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Mahar Hpa An Production Company Limited) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ)ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ)ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င)ဥပဒေပုဒ်မ ၂၀ (ဆ) အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်းအခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးစလုံးဖြစ်စေ၊ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ)ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်းကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ)ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ)ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

ကန့်သတ်

၃

(စ) ဥပဒေပုဒ်မ ၂၀(ဋ)အရ ပြည်ပသို့တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀ (ဆ) အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှုစသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာအသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရ မည်။

၄။ မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Mahar Hpa An Production Company Limited) သည် ဤခွင့်ပြု မိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Mahar Hpa An Production Company Limited) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစု ထားရှိရမည်။

၆။ မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Mahar Hpa An Production Company Limited) သည်အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက် ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက် ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၇။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာလိုက်နာဆောင်ရွက်ရမည်။

၈။ မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Mahar Hpa An Production Company Limited) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမားဆက်ဆံ ရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

ကန့်သတ်

၉။ မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Mahar Hpa An Production Company Limited) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဗူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေးလုပ်ငန်းသုံး ပစ္စည်း များကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၀။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထား သည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်း ကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ အခြားသောပတ်ဝန်းကျင်ထိန်းသိမ်း ရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၁။ မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Mahar Hpa An Production Company Limited) သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ကရင်ပြည်နယ် စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေး ရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိဆောင်ရွက်ရမည်။

၁၂။ မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Mahar Hpaan Production Company Limited) သည် ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး) လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃) လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Mahar Hpa An Production Company Limited) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်) နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ကျော်ဝင်း)
ဥက္ကဋ္ဌ

စာအမှတ်၊ မရက-၃ /မ-၁၃၃၈/၂၀၁၆ ( ၁၄၅၆ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန

ဥက္ကဋ္ဌ၊ CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီ

ကရင်ပြည်နယ်အစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

အုပ်ချုပ်မှုဒါရိုက်တာ၊ မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Mahar Hpa An Production Company Limited)

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် တင်ပြလာသော မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက်
(Mahar Hpa An Production Co., Ltd.) ၏ ကော်မရှင်အစည်းအဝေးသို့ တင်ပြရန် ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၁၂-၃-၂၀၁၆ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးတင်ပြခြင်း (၁၁/၂၀၁၆) | ၁၄-၃-၂၀၁၆ | | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၁၁/၂၀၁၆ ကြိမ်မြောက်အစည်းအဝေးဆုံးဖြတ်ချက်ပြန်ကြားခြင်း | ၂၄-၃-၂၀၁၆ | ၁၃၂ ရက် → | မူလရင်းနှီးမြှုပ်နှံမှုပမာဏနှင့် ထပ်မံထည့်ဝင်မည့် ရင်းနှီးမြှုပ်နှံမှုပမာဏဖော်ပြပေးရန်နှင့်စီးပွားရေးဆိုင်ရာတွက်ချက်မှုများပြင်ဆင်တင်ပြရန်နှင့် ပြည်ပမှ တင်သွင်းမည့် ပစ္စည်းစာရင်းတင်ပြပေးရန်အကြောင်းကြားခဲ့ပါသည်။ |
| ၄ | ကုမ္ပဏီမှ အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ လိုအပ်ချက်များ ပြင်ဆင်တင်ပြခြင်း | ၂၂-၇-၂၀၁၆ | | |
| ၅ | အဆိုပြုလွှာလက်ခံကြောင်းပြန်ကြားခြင်း | ၂၅-၇-၂၀၁၆ | | |
| ၆ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ကရင်ပြည်နယ်အစိုးရအဖွဲ့ | ၂၅-၇-၂၀၁၆ | ၂၂-၈-၂၀၁၆ | |
| | (ခ) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန | ၂၅-၇-၂၀၁၆ | ၂-၈-၂၀၁၆ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၂၅-၇-၂၀၁၆ | ၁၈-၈-၂၀၁၆ | |
| | (ဃ) CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ | ၂၅-၇-၂၀၁၆ | ၂၂-၈-၂၀၁၆ | |
| ၇ | ကုမ္ပဏီသို့ လိုအပ်ချက်များ အကြောင်းကြားခြင်း | ၂၆-၈-၂၀၁၆ | | |
| ၈ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်တင်ပြခြင်း | | ၁၁-၁၀-၂၀၁၆ | |
| ၉ | အဆိုပြုလွှာ (၁၀) စုံ ပေးပို့ခြင်း | | ၁၇-၁၀-၂၀၁၆ | |
| ၁၀ | **စုစုပေါင်းကြာမြင့်ရက် ၂၁၉ ရက်** | | | |

# ကန့်သတ်

| | |
|---|---|
| ကုမ္ပဏီအမည် | - မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Mahar Hpa An Production Co., Ltd.) |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့် အမျိုးသမီးအတွင်းခံဝတ်အမျိုးမျိုးအား တစ်စိတ်တစ်ပိုင်းချုပ်လုပ်ခြင်းလုပ်ငန်း |
| တည်နေရာ | - မြေကွက်အမှတ် ၁၊ ၂၊ ၃။ ၄၊ ဘားအံစက်မှုဇုန် (၃)၊ ကော့ထော်ကျေးရွာအုပ်စု၊ ဘားအံမြို့နယ်၊ ကရင်ပြည်နယ် |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၁၂၀၀.၀၀ သန်း (US$ ၀.၀၁၆ သန်းအပါအဝင်) |
| ရောင်းချမည့်စနစ် | - ပြည်ပသို့ ၁၀၀ % တင်ပို့ခြင်း |
| လုပ်ငန်းသက်တမ်း | - ၁၀ နှစ် |
| အရင်းကြေကာလ | - ၅ နှစ် ၉ လ |
| IRR | - ၁၂ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၂.၁၆ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၀.၁၉၂ သန်း | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | - | - |
| ၅ | ဝင်ငွေခွန် | ကျပ် ၁၉၂.၂၅ သန်း | ကျပ် ၄၅၇.၃၉ သန်း |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၄၆၃.၈၂ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ် ဝင်ငွေ ကျပ် ၄၈ သိန်းကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း (၆) ဦး |
| ၈ | CSR (၂%) | | ကျပ် ၂၄၅.၂၂ သန်း |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁၇၀ ဦး<br>ပြည်တွင်းလုပ်သား (၁၇၀) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင် အခွင့် အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။<br>အလုပ်အကိုင်အခွင့်အလမ်းများ ပိုမို ရရှိစေပြီး ဆင်းရဲနွမ်းပါးမှုလျော့ချရေးကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | | **ကျပ် ၁၉၄.၆၀၂ သန်း** | **ကျပ် ၁၁၆၇.၆၁၂ သန်း** |
| | | **၁ : ၆** | |

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် မဟာဘားအံထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Mahar Hpa An Production Co., Ltd.) တည်ထောင်၍ CMP စနစ်ဖြင့် အမျိုးသမီးအတွင်းခံဝတ်အမျိုးမျိုးအား တစ်စိတ်တစ်ပိုင်းချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည် | - မဟာဘားအံထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Mahar Hpa An Production Co., Ltd.) |
| ၂ | လုပ်ငန်းအဆိုပြုသူအမည် | - ချိုင်ချွန်ဝှက် (ခ) ဦးထွန်းလှိုင် (အဘ- ဦးမြင့်ဆွေ) |
| ၃ | အဆိုပြုလုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့် အမျိုးသမီးအတွင်းခံဝတ် အမျိုးမျိုးအား တစ်စိတ်တစ်ပိုင်း ချုပ်လုပ်ခြင်းလုပ်ငန်း |
| ၄ | လုပ်ငန်းတည်နေရာ | - မြေကွက်အမှတ် ၁၊ ၂၊ ၃။ ၄၊ ဘားအံစက်မှုဇုန် (၃)၊ ကော့ထော်ကျေးရွာ အုပ်စု၊ ဘားအံ မြို့နယ် ကရင်ပြည်နယ် |
| | မြေပိုင်ရှင် | - မဟာဘားအံကုမ္ပဏီလီမိတက် |
| | မြေအကျယ်အဝန်း | - ၆.၀၂၄ ဧက (၂၄၃၇၈.၂၈ စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - ၁၂၀ ပေ x ၃၀၀ ပေ အဆောက်အဦ (၁) လုံး |
| ၅ | စုစုပေါင်းမတည်ငွေရင်းပမာဏ | **ကျပ် ၁၂၀၀.၀၀ သန်း (US$ ၀.၀၁၆ သန်းအပါအဝင်)** |
| | | **(ကျပ် သန်း)** |
| | - ငွေပမာဏ | ၉၈.၀၉ |
| | - အပ်ချုပ်စက်တန်ဖိုး | ၃၈.၅၆ (US$ ၀.၀၁၆ သန်းအပါအဝင်) |
| | - မြေတန်ဖိုး | ၁၃၃.၁၁ |
| | - အဆောက်အဦတန်ဖိုး | ၉၁၀.၇၂ |
| | - ပရိဘောဂပစ္စည်းတန်ဖိုး | ၁.၅၄ |
| | - ထရန်စဖော်မာတန်ဖိုး | ၁၆.၉၈ |
| | - **စုစုပေါင်း** | **၁၂၀၀.၀၀ (US$ ၀.၀၁၆ သန်းအပါအဝင်)** |
| ၆ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ၁၀ နှစ် |
| ၇ | တည်ဆောက်ရေးကာလ | - ၃ လ |
| ၈ | ရောင်းချမည့်နည်းစနစ် | - ပြည်ပ ၁၀၀ % တင်ပို့ခြင်း |
| ၉ | ထုတ်လုပ်မှုနှင့် CMP လက်ခနှုန်း (၆နှစ်မြောက်) | |

| အမျိုးအစား | ထုတ်လုပ်မှုအရေအတွက် (Pcs) | CMP လက်ခနှုန်း (US$/Pcs) |
|---|---|---|
| Bra (cut pieces) | ၁၇၄,၀၀၀ | ၃.၀၀ |
| Underwear (cut pieces) | ၂၇၀,၀၀၀ | ၀.၅၀ |

| | | |
|---|---|---|
| ၁၀ | ကုမ္ပဏီဝင်ငွေ(၆ နှစ်မြောက်) | - ကျပ် ၇၈၈.၄၀ သန်း |
| | ကုမ္ပဏီအသုံးစရိတ်(၆ နှစ်မြောက်) | - ကျပ် ၅၉၂.၃၇ သန်း |
| | ကုမ္ပဏီအသားတင်အမြတ်(၆ နှစ်မြောက်) | - ကျပ် ၁၉၆.၀၃ သန်း |

| | | |
|---|---|---|
| ၁၁ | ဝန်ထမ်းအင်အားစုစုပေါင်း(ပထမနှစ်)<br>ပြည်တွင်း | - **၁၇၀ ဦး**<br>- ၁၇၀ ဦး (ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၁၁၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၃၀၀,၀၀၀) |
| ၁၂ | အရင်းကြေကာလ | - ၅ နှစ် ၉ လ |
| ၁၃ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၂ % |
| ၁၄ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်)<br>ဝင်ငွေခွန် | - ကျပ် ၆၅.၃၄ သန်း (၁ US$= ၁၂၀၀ ကျပ်) |
| ၁၅ | နှစ်စဉ်လျှော့စစ်ခတ်အားလိုအပ်ချက် | - ၁၃၈.၇၀ ယူနစ် |
| ၁၆ | ငွေကြေးအထောက်အထား | - မဟာဘားအံ့ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်သည် United Amara Bank Ltd. (စမ်းချောင်းဘဏ်ခွဲ) တွင် ၃-၁၀-၂၀၁၆ နေ့တွင် ကျပ် ၇၃,၂၈၅.၀၀ ရှိကြောင်း အထောက်အထားမိတ္တူ တင်ပြထားပါသည်။ |
| ၁၇ | CSR | - ၂ % |
| ၁၈ | အခြား | - ကုမ္ပဏီသည် ထိုင်းနိုင်ငံ၊ မဲဆောက်မြို့ရှိ Saphapat Co., Ltd. မှ ပုံစံဖြတ်ပြီးသား ဘရာဇီယာနှင့် အတွင်းခံဘောင်းဘီအမျိုးမျိုး ကိုတင်သွင်း၍ တစ်စိတ်တစ်ပိုင်းချုပ်လုပ်ပြီး ထိုင်းနိုင်ငံသို့ ပြန်လည်တင်ပို့မည် ဖြစ်ပါသည်။<br>- လုပ်ငန်းဆောင်ရွက်မည့် မြေဧက ၆.၀၀၆ ဧကအတွက် ၂၀၁၅-၂၀၁၆ စည်းကြပ်နှစ်အတွက်ဝင်ငွေခွန်ကျပ် ၄၆၅၅၂၅ဝိ/- ကို ၈-၃-၂၀၁၆ ရက်စွဲဖြင့် ကရင်ပြည်နယ်အစိုးရအဖွဲ့ရုံးသို့ ပေးသွင်းပြီးကြောင်း အထောက်အထားများ တင်ပြထားပါသည်။<br>- နိုင်ငံခြားမှ ကျွမ်းကျင်သူ (၄) ဦးတို့သည် အလှည့်ကျ မြန်မာနိုင်ငံသို့ လာရောက်၍ သင်တန်းပေးမည် ဖြစ်ပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၃/မ-၁၃၃၈/၂၀၁၆( ၁၃၇၇ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၂၅ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် မဟာဘားအံထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Mahar Hpa An Production Co., Ltd.) တည်ထောင်ကာ CMP စနစ်ဖြင့် အမျိုးသမီးအတွင်းခံဝတ်အမျိုးမျိုးအား တစ်စိတ်တစ်ပိုင်းချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ မဟာဘားအံထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Mahar Hpa An Production Co., Ltd.) သည် ကရင်ပြည်နယ်၊ ဘားအံမြို့နယ်၊ ကော့ထော်ကျေးရွာအုပ်စု၊ ဘားအံစက်မှုဇုန် (၃)၊ မြေကွက်အမှတ် ၁၊ ၂၊ ၃၊ ၄ ရှိ စုစုပေါင်း မြေဧရိယာ ၆.၀၂၄ ဧက (၂၄၃၇၈.၂၈ စတုရန်းမီတာ) ၌ CMP စနစ်ဖြင့် အမျိုးသမီးအတွင်းခံဝတ်အမျိုးမျိုးအားတစ်စိတ်တစ်ပိုင်းချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးထွန်းလှိုင် (ခ) ချိုင်ချွန်ဝှက် (အဘ-ဦးမြင့်ဆွေ) မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ၁၀ နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၃ လ ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ကိုယ်ပိုင်မြေပေါ်တွင် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။

၃။ လုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ ကျပ် ၁၂၀၀.၀၀ သန်း (US$ ၀.၀၁၆ သန်း အပါအဝင်) ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | ငွေသား | ကျပ် | ၉၈.၀၉ သန်း |
| (ခ) | မြေတန်ဖိုး | ကျပ် | ၁၃၃.၁၁ သန်း |
| (ဂ) | အဆောက်အဦတန်ဖိုး | ကျပ် | ၉၁၁.၇၂ သန်း |
| (ဃ) | ပရိဘောဂပစ္စည်းတန်ဖိုး | ကျပ် | ၁.၅၄ သန်း |
| (င) | ထရန်စဖော်မာတန်ဖိုး | ကျပ် | ၁၆.၉၈ သန်း |
| (စ) | အပ်ချုပ်စက်တန်ဖိုး (ပြည်ပ) | ကျပ် | ၃၈.၅၆ သန်း(US$ ၀.၀၁၆ သန်း အပါအဝင်) |
| | **စုစုပေါင်းမတည်ငွေရင်းပမာဏ** | **ကျပ်** | **၁၂၀၀.၀၀ သန်း(US$ ၀.၀၁၆ သန်း အပါအဝင်)** |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၁၇၀ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပါသည်။ နိုင်ငံခြားသားကျွမ်းကျင်ပညာရှင် (၄) ဦး အလှည့်ကျ မြန်မာနိုင်ငံသို့ လာရောက်သင်တန်းပေးမည် ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသော အထည်တစ်စိတ်တစ်ပိုင်းများကို ပြည်ပသို့ ၁၀၀ % တင်ပို့မည်ဖြစ်ပါသည်။ ပုံမှန်နှစ် (၆ နှစ်မြောက်) တွင် ထုတ်လုပ်မှုအရေအတွက်နှင့် CMP လက်ခနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| **အမျိုးအမည်** | **ထုတ်လုပ်မှုအရေအတွက်** (Pcs) | CMP လက်ခ (US$/Pcs) |
|---|---|---|
| Bra (cut pieces) | ၁၇၄,၀၀၀ | ၃.၀၀ |
| Underwear (cut pieces) | ၂၇၀,၀၀၀ | ၀.၅၀ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | **ကျပ် (သန်း)** |
|---|---|---|
| (က) | ဝင်ငွေ | ၇၈၈.၄၀ |
| (ခ) | အသုံးစရိတ် | ၅၉၂.၃၇ |
| (ဂ) | အသားတင်အမြတ် | ၁၉၆.၀၃ |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်) တွင် ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၆၅.၃၄ သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေကာလမှာ ၅ နှစ် ၉ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၂ % ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၁၂၀၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၈။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ကရင်ပြည်နယ်အစိုးရအဖွဲ့၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ဝန်ကြီးဌာန၊ စက်မှုဝန်ကြီးဌာနနှင့် CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီများသို့ သဘောထားတောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **ကရင်ပြည်နယ်အစိုးရအဖွဲ့**မှ (၁၀-၈-၂၀၁၆) ရက်နေ့တွင် ကျင်းပပြုလုပ်သော ကရင်ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၁၆/၂၀၁၆) ဆုံးဖြတ်ချက် အပိုဒ် (၁) အရ စက်မှုဇုန်အတွင်းတွင် ဆောင်ရွက်မည့်လုပ်ငန်း ဖြစ်သောကြောင့် ထောက်ခံပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ (က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန**မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့် အညီ ဆောင်ရွက်ရန် သဘောထား

မှတ်ချက် အပေါ် **ကုမ္ပဏီ မှ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။**
**နောက်ဆက်တွဲ (ခ)**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** လိုအပ်ချက်များမှတ်ချက်ပြုထားခြင်းအပေါ် ကုမ္ပဏီမှ ပြင်ဆင်တင်ပြခြင်းကို စက်မှုဝန်ကြီးဌာနမှ စိစစ်လက်ခံပြီး ဖြစ်ပါသည်။ **နောက်ဆက်တွဲ (ဂ)**

(ဃ) **CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီမှ** မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက ကရင်ပြည်နယ်ရှိ ပြည်သူများ တစ်ဖက်နိုင်ငံသို့ သွားရောက်အလုပ်လုပ်ကိုင်ရန်မလိုဘဲ ဒေသတွင်းအလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲမှုလျှော့ချရေးကို အထောက်အကူပြုနိုင်မည်ဖြစ်၍ အဆိုပြုလုပ်ငန်းလုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက်သင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(ဃ)**

၉။ ငွေရေးကြေးရေးအထောက်အထားအဖြစ် မဟာဘားအံ့ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် သည် United Amara Bank Ltd. (စမ်းချောင်းဘဏ်ခွဲ) ၌ ၃-၁၀-၂၀၁၆ ရက်စွဲဖြင့် ကျပ် ၇၃၂၈၅.၀၀ ရှိကြောင်း အထောက်အထားမိတ္တူတင်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန် အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ တစ်နှစ်လျှင် ဝင်ငွေ ကျပ် ၄၈ သိန်းအထက် ရရှိသော ဝန်ထမ်းများ၏လစာဝင်ငွေအပေါ် ကျသင့်မည့် ဝင်ငွေခွန်များအား မှန်ကန်စွာတွက်ချက်၍ ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ ဝန်ထမ်းသက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် လုပ်သားများအား သန့်စင်ခန်း အလုံအလောက်ထားရှိပြီး သန့်ရှင်းရေးသုံးပစ္စည်းများ ဖြည့်ဆည်းပေးမည် ဖြစ်ပါကြောင်း၊ ထမင်းစားခန်းကို သီးခြားထားရှိပြီး သန့်ရှင်းသပ်ရပ်မှုရှိစေရန် ဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ စည်ပင်ရေဆိုးဌာနနှင့် ချိတ်ဆက်၍ ဝန်ထမ်းများ၏ ကျန်းမာရေးထိခိုက်မှု မရှိစေရန် အချိန်နှင့် တပြေးညီဆောင်ရွက်ပေးမည် ဖြစ်ပါကြောင်း၊ ဝန်ထမ်းများ၏ ကျန်းမာရေးအတွက် ဒေသန္တရနှင့် ချိတ်ဆက်၍ ခြင်ဆေးဖျန်းခြင်းစသည့် ရာသီချိန်ရောဂါများ မဖြစ်ပွားစေရန် ကြိုတင်ကာကွယ်ဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ စက်ရုံအတွင်း အရေးပေါ်ဆေးပေးကောင်တာ ထားရှိ၍ ရှောင်တခင်ကျန်းမာရေးအကူအညီပေးနိုင်ရန် ဆောင်ရွက်ထားမည် ဖြစ်ပါကြောင်း၊ ဝန်ထမ်းများ၏ လစာကို လက်ရှိဖြစ်ပေါ်လျက်ရှိသည့် လစာနှုန်းထားများနှင့်အညီ ပေးမည်ဖြစ်ပြီး အကျိုးခံစားခွင့်ကို တည်ဆဲအလုပ်သမားဥပဒေများနှင့်အညီခံစားနိုင်ရန် ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ အထည်ချုပ်လုပ်ငန်းတွင် တာဝန်ထမ်းဆောင်နေသော ဝန်ထမ်းများအား တူညီဝတ်စုံများ စနစ်တကျဝတ်ဆင်ပြီးမှ လုပ်ငန်းခွင်သို့ ဝင်စေပါကြောင်း တင်ပြထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို နိုင်ငံတော်မှ ဖြန့်ဖြူးပေးသည့် လျှပ်စစ်ဓါတ်အားလိုင်းမှ ရယူမည့်အပြင် ကိုယ်ပိုင်မီးအားပေးစက်များကိုပါ အသုံးပြုမည် ဖြစ်ပါကြောင်း၊ နိုင်ငံတော်မှ ဖြန့်ဖြူးပေးသည့် လျှပ်စစ်ဓါတ်အားလိုင်းမှ ဓါတ်အားအပြည့်အဝရရှိရန် 315 KVA Transformer ကို အသုံးပြုထားပါကြောင်း တင်ပြထားပါသည်။

၁၃။ ကုမ္ပဏီမှ နှစ်စဉ် အသားတင်အမြတ်၏ ၂ % ကို လူမှုအကျိုးပြုလုပ်ငန်း (Corporate Social Responsibility -CSR) အတွက် အသုံးပြုမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် မတ်လ ၁၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော (၁၁/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀(က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည၊ ဋ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ မဟာဘားအံထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Mahar Hpa An Production Co., Ltd.) သည် ကရင်ပြည်နယ်၊ ဘားအံမြို့နယ်၊ ကော့ထော်ကျေးရွာအုပ်စု၊ ဘားအံစက်မှုဇုန် (၃)၊ မြေကွက်အမှတ် ၁၊ ၂၊ ၃၊ ၄ ရှိ စုစုပေါင်း မြေဧရိယာ ၆.၀၂၄ ဧက (၂၄၃၇၈.၂၈ စတုရန်းမီတာ) ၌ CMP စနစ်ဖြင့် အမျိုးသမီးအတွင်းခံဝတ်အမျိုးမျိုးအား တစ်စိတ်တစ်ပိုင်းချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့ရုံး
ကရင်ပြည်နယ်

စာအမှတ်၊ ၂၀၀ / ၇ - ၁၄ / ဦး ၆ ( ၁၂၈၆ )
ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၂၂ ရက်

M-1285
29/8/2016

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

P-11
29.8.16

အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**
ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၂၅-၇-၂၀၁၆ )ရက်စွဲပါ စာအမှတ်၊ မရက-၃/မ-၁၃၃၈/၂၀၁၆(၁၀၀၃)

မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ ကရင်ပြည်နယ်၊ ဘားအံမြို့နယ်၊ ကော့ထော်ကျေးရွာအုပ်စု၊ ဘားအံစက်မှုဇုန်(၃)၊ မြေကွက်အမှတ်(၁၊ ၂၊ ၃၊ ၄)ရှိ မြေဧရိယာစုစုပေါင်း( ၆.၀၂၄ )ဧက ( ၂၄၃၇၈.၂၈ စတုရန်းမီတာ )၌ CMP စနစ်ဖြင့် အမျိုးသမီးဝတ် အတွင်းခံအမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်းကို ဦးထွန်းလှိုင်(ခ) ချိုင်ချွန်ဝှက်မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာမှုအပေါ် ကော်မရှင်မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့်အညီ လုပ်ငန်းအဆိုပြုလွှာများကိုစိစစ်ပေးရမည်ဖြစ်၍ ရည်ညွှန်းချက်ပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာသည့်ကိစ္စနှင့်ပတ်သက်၍ ( ၁၀-၈-၂၀၁၆ ) ရက်နေ့တွင် ကျင်းပပြုလုပ်သော ကရင်ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၁၆/၂၀၁၆) ဆုံးဖြတ်ချက်အပိုဒ်(၁)အရ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လုပ်ရိုးလုပ်စဉ် သဘောထားတောင်းခံလာခြင်းအပေါ် စက်မှုဇုန်အတွင်းတွင် ဆောင်ရွက်မည့်လုပ်ငန်းဖြစ်သောကြောင့် ထောက်ခံပါကြောင်း ပူးတွဲပါသဘောထားမှတ်ချက်နှင့်အတူ ပေးပို့တင်ပြအပ်ပါသည်။**

**ပူးတွဲ** - ပြည်နယ်စီမံကိန်း၊ ဘဏ္ဍာရေးနှင့်စည်ပင်သာယာရေးဝန်ကြီး၏ထောက်ခံချက်(၁)ရွက်

ပြည်နယ်ဝန်ကြီးချုပ်(ကိုယ်စား)
( မင်းရွှေ၊ အတွင်းရေးမှူး )

မိတ္တူကို
ပြည်နယ်ဝန်ကြီး၊ စီမံကိန်း၊ ဘဏ္ဍာရေးနှင့် စည်ပင်သာယာရေးဝန်ကြီးဌာန၊ ဘားအံမြို့
မျှော/လက်ခံ

လျှို့ဝှက်

**ထောက်ခံချက်**

မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ ကရင်ပြည်နယ်၊ ဘားအံမြို့နယ်၊ ကော့ထော်ကျေးရွာအုပ်စု၊ ဘားအံစက်မှုဇုန်( ၃ )၊ မြေကွက်အမှတ်( ၁၊ ၂၊ ၃၊ ၄ )ရှိ မြေဧရိယာစုစုပေါင်း ( ၆.၀၂၄ )ဧက (၂၄၃၇၈.၂၈ စတုရန်းမီတာ)၌ CMP စနစ်ဖြင့် အမျိုးသမီးဝတ် အတွင်းခံအမျိုးမျိုးအား တစ်စိတ်တစ်ပိုင်း ချုပ်လုပ်ခြင်းလုပ်ငန်းကို ဦးထွန်းလှိုင် (ခ) ချိုင်ချွန်ဗုက် ( အဘ ဦးမြင့်ဆွေ )မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလာခြင်းအပေါ် ကရင်ပြည်နယ်အစိုးရအဖွဲ့အနေဖြင့် အောက်ပါအတိုင်း ထောက်ခံအပ်ပါသည် -

(၁) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ပြုလုပ်မည့် ( သို့မဟုတ် ) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်မှု မရှိပါ၊

(၂) မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်၊

(၃) ဖော်ပြပါမြေနေရာအား စက်ရုံအတွက်သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်၊

(၄) လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာ ဟုတ်မှန်ပါသည်၊

(၅) ဘားအံစက်မှုဇုန်အတွင်းရှိ စက်ရုံလုပ်ငန်းဖြစ်ပါသဖြင့် အထက်ပါ အချက်(၄)ချက်အရ အကျုံးဝင်ပြီးဖြစ်၍ ထောက်ခံအပ်ပါသည်။

ပြည်နယ်ဝန်ကြီးချုပ်(ကိုယ်စား)

(သန်းနိုင်၊ စီမံကိန်း၊ ဘဏ္ဍာရေးနှင့် စည်ပင်သာယာရေးဝန်ကြီး)

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၂၂ ရက်

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝ၀၁/ MIC(OSS) /၀၁( ၂၀၂ /၁၆ )
ရက် စွဲ ၊၂၀၁၆ခုနှစ် ဩဂုတ်လ ၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ CMP စနစ်ဖြင့် အမျိုးသမီးအတွင်းခံဝတ်အမျိုးမျိုးအား တစ်စိတ်တစ်ပိုင်း ချုပ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅-၇-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက-၃/ မ-၁၃၃၈/ ၂၀၁၆(၉၉၈)

၁။ မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက်သည် ကရင်ပြည်နယ်၊ ဘားအံမြို့နယ်၊ ကော့ထော်ကျေးရွာအုပ်စု၊ ဘားအံစက်မှုဇုန်(၃)၊မြေကွက်အမှတ် ၁၊ ၂၊ ၃၊ ၄ရှိ စုစုပေါင်း မြေဧရိယာ ၆.၀၂၄၈ဧက (၂၄၃၇၈.၂၈၀၀တုရန်းမီတာ) ၌ CMP စနစ်ဖြင့် အမျိုးသမီးအတွင်းခံဝတ်အမျိုးမျိုးအား တစ်စိတ်တစ်ပိုင်းချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီးသဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ (၁၀) နှစ် ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၃) လ ဖြစ်ကြောင်း၊ မီးဘေးအန္တရာယ်ကာကွယ်ရေးအတွက် အစီအမံများ၊ လုပ်သားများသက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးဆောင်ရွက်မည့်အစီအစဉ်များကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏ (၂%)ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ စက်ရုံဝန်းကျင်တွင် ရေစီးရေလာ ကောင်းမွန်စေရန် ကွန်ကရစ်ရေမြောင်းများဖောက်လုပ်ထားခြင်း၊ စက်ရုံဝန်းကျင်တွင် အရိပ်ရစေရန်

နှင့် စိမ်းလန်းစိုပြေမှုရရှိစေရန် သစ်ပင်များစိုက်ပျိုးခြင်းနှင့် နိုင်ငံတော်မှ ချမှတ်ထားသော သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းစောင့်ရှောက်ရေး ပြဌာန်းချက်များကို အတိအကျ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ မဟာဘားအံ့ထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ အထည်ချုပ်လုပ်ငန်းများ ဆောင်ရွက်ရာတွင် အသုံးပြုမည့်ကုန်ကြမ်းပစ္စည်းများသည် ဆွေးမြေ့ပျက်စီးရန် အချိန်ကြာမြင့်ပြီး မြေဆီလွှာထိခိုက်ပျက်စီးခြင်း၊ ပုံစံဖြတ်ခြင်း၊ ပိတ်စညှပ်ခြင်းလုပ်ငန်းအဆင့်များတွင် ထွက်ရှိလာမည့်ဖြတ်စ၊ညှပ်စအမှုန်အမွှားများကြောင့် လေထုနှင့်မြေထုညစ်ညမ်းခြင်း၊လုပ်ငန်းအဆင့်တိုင်းတွင်စက်များကို အသုံးပြုဆောင်ရွက်ရမည်ဖြစ်သဖြင့် အသံဆူညံခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ မဟာဘားအံ့ထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ CMP စနစ်ဖြင့် အမျိုးသမီးအတွင်းခံဝတ်အမျိုးမျိုးအား တစ်စိတ်တစ်ပိုင်းချုပ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility-CSR ) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အားအသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှု**

**အစီအစဉ်** (Environmental Management Plan– EMP) အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာ ရေးသားတင်ပြရန်။

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်။

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
တာဝန်ခံအရာရှိ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ကရင်ပြည်နယ်
ရုံးလက်ခံ

M- 1263
24/8/16

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃-စမ(၂) ၂၀၁၆-၂၀၁၇(၁၂၇၃)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၂၈ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅.၇.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက-၃/ မ-၁၃၃၈/ ၂၀၁၆ (၁၀၀၄)

၁။ မဟာဘားအံထုတ်လုပ်မှု ကုမ္ပဏီလီမိတက်(Mahar Hpa An Production Co.,Ltd.) မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ကရင်ပြည်နယ်၊ ဘားအံမြို့နယ်၊ ကော့ထော်ကျေးရွာအုပ်စု၊ ဘားအံစက်မှုဇုန်(၃)၊ မြေကွက်အမှတ် (၁၊ ၂၊ ၃၊ ၄)တွင် CMP စနစ်ဖြင့် အမျိုးသမီးအတွင်းခံဝတ်အမျိုးမျိုးအား တစ်စိတ်တစ်ပိုင်း ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး CMP စနစ်ဖြင့် အမျိုးသမီးအတွင်းခံဝတ်အမျိုးမျိုးအား တစ်စိတ်တစ်ပိုင်း ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁ % သုံးစွဲရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) လုပ်ခန္တန်းတင်ပြထားမှုမှာ လျော့နည်းနေပါသဖြင့် အနည်းငယ်တိုးမြှင့်တင်ပြရန် လိုအပ်ပါသည်။

(စ) ကုန်ကြမ်းသုံးစွဲမှုနှုန်း တင်ပြထားခြင်းမရှိပါသဖြင့် တင်ပြရန် လိုအပ်ပါသည်။

(ဆ) နှစ်အလိုက် ကုန်ထုတ်လုပ်မှုတင်ပြချက်နှင့် ကုန်ကြမ်းသုံးစွဲမှုနှုန်းအပေါ် မူတည်၍ ပြင်ဆင်တင်ပြရန်နှင့် ထုတ်ကုန်အမျိုးအစားများကိုလည်း တစ်စိတ် တစ်ပိုင်း ချုပ်လုပ်သောပစ္စည်းဖြစ်ကြောင်း ဖော်ပြရန် လိုအပ်ပါသည်။

(ဇ) နှစ်အလိုက် ကုန်ထုတ်လုပ်မှုအရေအတွက် တိုးမြှင့်၍ ဝန်ထမ်းအင်အား တိုးမြှင့်တင်ပြရန်လိုအပ်ပါသည်။

၃။ သို့ပါ၍ မဟာဘားအံထုတ်လုပ်မှု ကုမ္ပဏီလီမိတက်(Mahar Hpa An Production Co.,Ltd.) မှ CMP စနစ်ဖြင့် အမျိုးသမီးအတွင်းခံဝတ်အမျိုးမျိုးအား တစ်စိတ်တစ်ပိုင်း ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ**

စာအမှတ်၊ ၃၄/အလ/ခွဲ(၂)၂၀၁၆(၈၁၉၁)

ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၂၂ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ CMP စနစ်ဖြင့် အမျိုးသမီး အတွင်းခံဝတ်အမျိုးမျိုးအား တစ်စိတ်တစ်ပိုင်းချုပ်လုပ်ခြင်း လုပ်ငန်း သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅-၇-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက- ၃/မ- ၁၃၃၈/၂၀၁၆(၁၀၀၅)

၁။ ကရင်ပြည်နယ်၊ ဘားအံမြို့နယ်၊ ကော့ထော်ကျေးရွာအုပ်စု၊ ဘားအံစက်မှုဇုန်(၃)၊ မြေကွက်အမှတ်- ၁၊ ၂၊ ၃၊ ၄ ၊ မြေဧရိယာ ၆.၀၂၄ ဧက (၂၄၃၇၈.၂၈ စတုရန်းမီတာ)၌ ဦးထွန်းလှိုင် (ခ) ချိုင်ချွန်ဝှက်၊ မန်နေဂျင်း ဒါရိုက်တာ အပါအဝင် ဒါရိုက်တာ (၅)ဦး အစုရှယ်ယာ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက် တည်ထောင်ပြီး မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုနှင့် CMP စနစ်ဖြင့် အမျိုးသမီး အတွင်းခံဂတ်အမျိုးမျိုးအား တစ်စိတ်တစ်ပိုင်းချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် တင်ပြလာမှုအပေါ် CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်း စစ်ဆေးရေးအဖွဲ့ ဥက္ကဋ္ဌ၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန၊ ပြည်နယ်ဦးစီးမှူး ဦးအောင်ငြိမ်း၊ အလုပ်ရုံနှင့် အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန၊ လက်ထောက်ညွှန်ကြားရေးမှူး ဒေါ်ခင်ဆန်းဦး၊ လူမှုဖူလုံရေးအဖွဲ့၊ လက်ထောက်ညွှန်ကြားရေးမှူး ဦးဝင်းဦး၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဦးစီးဌာန၊ ဒုတိယညွှန်ကြားရေးမှူး ဦးဇော်ဝင်းမြင့်၊ အကောက်ခွန်ဦးစီးဌာန၊ အကောက်ခွန်မှူး ဦးတင်ထွန်းလတ်၊ စက်မှုကြီးကြပ်ရေးဦးစီးဌာန၊ ကြီးကြပ်ရေးမှူး ဦးစောထွန်းညွှန့်၊ စားသုံးသူရေးရာဦးစီးဌာနမှ ဦးစီးအရာရှိ ဦးတင်သိန်း၊ စီမံကိန်းရေးဆွဲရေးဦးစီးဌာနမှ ဒုတိယဦးစီးမှူး ဒေါ်နှင်းအိဖြူ၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန(ခရိုင်ရုံး)၊ ဦးစီးအရာရှိ ဦးစောအောင်သန်းငွေနှင့် စက်ရုံတာဝန်ခံ ဦးစိုးနိုင်တို့သည် ၁၁-၈-၂၀၁၆ ရက်နေ့တွင် စက်ရုံသို့ သွားရောက်စစ်ဆေးခဲ့ပါသည်။

၂။ မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက်၏ အဆိုပြုချက်အပေါ် စိစစ်ခဲ့ရာ မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက်သည် ဘားအံစက်မှုဇုန် (ဇုန်အမှတ်-၂)၊ ကွင်းအမှတ် ၁၀၉၈(က)၊ မြေကွက်အမှတ်(၂၂/၂၃)တွင် တည်ရှိသောစက်ရုံတွင် အလုပ်သမား ၈၂ဦးအား စက်ချုပ်သင်ကြားပေးလျက်ရှိပြီး နိုင်ငံခြားသားကျွမ်းကျင်သူ ပညာရှင်အဖြစ် ထိုင်းနိုင်ငံသား ၃ ဦး ဝင်ရောက်လုပ်ကိုင်လျက်ရှိကြောင်း တွေ့ရှိရပါသည်။ သင်တန်းသား အလုပ်သမားများအား သင်ကြားပေးသည့် အချိန်ကာလ (Training Period) ပြီးဆုံးပါက ဘားအံစက်မှုဇုန်၊ ဇုန်အမှတ် (၃)၊ မြေကွက်အမှတ် (၁/၂/၃/၄)၊ စုစုပေါင်း မြေဧရိယာ အကျယ်အဝန်း (၆.၀၂၄) ဧကရှိ အဆောက်အဦသို့ ပြောင်းရွှေ့ဆောင်ရွက်ရန် ပြင်ဆင်ထား ကြောင်း သိရှိရပါသည်။

(ဂ) **CMP ကုန်ကြမ်း လိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှုရှိ/မရှိ**

| **ချုပ်ထည်** | **တစ်ထည်လိုအပ်ချက်နှုန်းထား** | | **ကိုက်ညီမှုရှိ/မရှိ** |
|---|---|---|---|
| (၁) ဘော်လီအမျိုးမျိုး (ဘရာဇီယာ) | ပိတ်စ | 0.048 yd/pcs | ကိုက်ညီမှုရှိပါသည်။ |
| | ဇာပိတ်စ | 0.0275 yd/pcs | ။ |
| | အရောင်ဇာ | 0.183 yd/pcs | ။ |
| | ပန်းဇာ | 0.620 yd/pcs | ။ |
| | **စုစုပေါင်း** | 0.8785 yd/pcs | |
| (၂) အတွင်းခံဘောင်းဘီ | | 0.64 yd/pcs | ။ |

အဆိုပြုချက်ပါ ကုန်ကြမ်းလိုအပ်ချက်မှာ တစ်ထည်လိုအပ်ချက်နှုန်းထား၊ တားမြစ်သတ်မှတ်စံနှုန်းထားများနှင့် ကိုက်ညီမှုရှိကြောင်း တွေ့ရှိရပါသည်။

| **ချုပ်ထည်** | **အဆိုပြုထုတ်လုပ်မှု အရေအတွက်** | **တစ်ထည်လိုအပ်ချက် နှုန်းထား** | **လိုအပ်မည့်ကုန်ကြမ်း အရေအတွက်** |
|---|---|---|---|
| (၁) ဘော်လီအမျိုးမျိုး (ဘရာဇီယာ) | 174000 | 0.8785 yd/pcs | 152859 yds |
| (၂) အတွင်းခံဘောင်းဘီ | 260000 | 0.64 yd/pcs | 166400 yds |

အဆိုပြုချက်ပါ ပစ္စည်းအားလုံးထုတ်လုပ်မည်ဆိုပါက ကုန်ကြမ်း(ပုံစံဖြတ်ပြီးသား အထည်စ)ဘော်လီ 174000 pcs၊ အတွင်းခံဘောင်းဘီ 260000 pcs အတွက် တစ်ထည်လိုအပ်ချက်နှုန်းထား 0.8785 yd/pcs ၊ 0.64 yd/pcs) ဖော်ပြထားသည့်နှင့် ကိုက်ညီမှုရှိပါသည်။

(ဃ) **CMPလက်ခနှုန်းထားများ တင်ပြမှုဆီလျော်မှုရှိ/မရှိ**

မဟာဘားအံအထည်ချုပ်စက်ရုံတွင် ထိုင်းနိုင်ငံ၊ မဲဆောက်မြို့ရှိ Saphapat Co., Ltd ပုံစံဖြတ်ပြီးသား ဘရာဇီယာ(ဘော်လီအမျိုးမျိုး)နှင့် အတွင်းခံဘောင်းဘီတို့အား အော်ဒါမှာယူ၍ တစ်စိတ်တစ်ပိုင်းချုပ်လုပ်လျက်ရှိကြောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်မရသေးသဖြင့် သင်တန်းသား အလုပ်သမားများ၏ လုပ်ခများအား ၂၀၁၃ ခုနှစ်၊ အနည်းဆုံးအခကြေးငွေဥပဒေအရ ပေးချေလျက်ရှိကြောင်း၊ နေ့စားလရှင်း စနစ်ဖြင့် ပေးချေကြောင်းနှင့် အချိန်ပိုဆင်းရပါက တစ်နာရီလုပ်အားခ၏ နှစ်ဆပေးချေကြောင်း တွေ့ရှိရပါသည်။ မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက်အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိပါက CMP လက်ခနှုန်းဖြင့် ပေးချေမည်ဖြစ်ပြီး CMP လက်ခနှုန်းထားများသည် လက်ရှိလက်ခနှုန်းထားနှင့် နှိုင်းယှဉ်ရာတွင် ချုပ်လုပ်ရသည့်အပိုင်း (Point) နည်းပါးသဖြင့် ရရှိသည့်လက်ခနှုန်းထားများ သင့်လျော်မှုရှိကြောင်း တွေ့ရှိရပါသည်။

| **ချုပ်ထည်** | **အဆိုပြုချက်ပါ CMP လက်ခနှုန်းထား** |
|---|---|
| (၁) ဘော်လီအမျိုးမျိုး (ဘရာဇီယာ) | 0.714 USD/DZ |
| (၂) အတွင်းခံဘောင်းဘီ | 0.14 USD/DZ |

(ဂ) **နှစ်စဉ်ထုတ်လုပ်မှု၊ စက်အင်အား၊ လူအင်အားအချိုးအစား ညီမျှမှု ရှိ/မရှိ**

မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက် အထည်ချုပ်စက်ရုံအနေဖြင့် အဆိုပြုလွှာတွင် ပါသည့်အတိုင်း ဘော်လီအမျိုးမျိုး (ဘရာဇီယာ)နှင့် အမျိုးသမီးဝတ် အတွင်းခံဘောင်းဘီနှစ်မျိုးကိုသာ ထိုင်းနိုင်ငံမှ ပုံစံဖြတ်ပြီးသား အထည်စများဖြင့် တစ်စိတ်တစ်ပိုင်းချုပ်လုပ်လျက်ရှိကြောင်းတွေ့ရှိရပါသည်။ CMPစနစ်ဖြင့် တစ်စိတ်တစ်ပိုင်းချုပ်လုပ်ပြီး ထိုင်းနိုင်ငံသို့ ပြန်လည်ပို့ဆောင်ရန် တင်ပြထားပါသည်။ အဆိုပါပစ္စည်းများကို ထုတ်လုပ်ရန် လျှပ်စစ်မော်တာသုံး Sweing Machines ၁၂၃ လုံး၊ နိုင်ငံခြားသားပညာရှင် ၄ ဦး၊ All Super ၂ ဦး၊ ခေါင်းဆောင် ၁၀ ဦး၊ စက်ချုပ်အလုပ်သမား ၁၂၀ ဦး၊ Helper အကူ ၄ ဦးတို့ဖြင့် စွမ်းအားပြည့် လည်ပတ်ချုပ်လုပ်ခြင်း မရှိသေးပဲ လိုင်း (၄)လိုင်း တွင် စက်ချုပ်လုပ်သား ၇၈ ဦး၊ အကူ ၄ ဦး တို့ဖြင့် လုပ်ငန်းဆောင်ရွက်လျက်ရှိကြောင်း တွေ့ရှိရသဖြင့် စက်အင်အားနှင့် လူအင်အားမှာ ကိုက်ညီမှုရှိကြောင်း တွေ့ရှိရပါသည်။ စီမံခန့်ခွဲရေး၊ ဘဏ္ဍာရေး၊ စက်ပြင်၊ ရုံးဝန်ထမ်း၊ သန့်ရှင်းရေး၊ လုံခြုံရေးလုပ်ငန်းများအတွက် ဝန်ထမ်းစုစုပေါင်း ၃၄ ဦး ရှိကြောင်းတွေ့ရှိရပါသည်။

| ချုပ်ထည် | ကုန်ထုတ်စက် | တစ်ရက်ထုတ်လုပ်နိုင်မှု | တစ်နှစ်ထုတ်လုပ်မှု (၃၁၀) ရက် |
|---|---|---|---|
| (၁) ဘော်လီအမျိုးမျိုး (ဘရာဇီယာ) | စက်(၂)လိုင်း | 561 pcs/ 8 hr | 173910 pcs |
| (၂) အတွင်းခံဘောင်းဘီ | စက်(၂)လိုင်း | 838 pcs/ 8 hr | 257980 pcs |

အဆိုပြုချက်ပါ ထုတ်လုပ်မှုနှင့် နှိုင်းယှဉ်လျှင် စက်အားလုံးမလည်ပတ်နိုင်သော်လည်း စမ်းသပ်ကာလပြီးမြောက်ပါက စွမ်းအားပြည့်ထုတ်လုပ်နိုင်မည်ဖြစ်ပါသည်။

| ချုပ်ထည် | အဆိုပြုထုတ်လုပ်မှု အရေအတွက် | တစ်နှစ်ထုတ်လုပ်နိုင်မှု ပမာဏ(ထည်) |
|---|---|---|
| (၁) ဘော်လီအမျိုးမျိုး (ဘရာဇီယာ) | 174000 pcs | 173910 pcs |
| (၂) အတွင်းခံဘောင်းဘီ | 260000 pcs | 257980 pcs |

၃။ သို့ဖြစ်ပါ၍ မဟာဘားအံထုတ်လုပ်မှုကုမ္ပဏီလီမိတက်အား ခွင့်ပြုသင့်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက ကရင်ပြည်နယ်ရှိ ပြည်သူများ တစ်ဖက်နိုင်ငံသို့ သွားရောက်အလုပ်လုပ်ကိုင်ရန်မလိုဘဲ ဒေသတွင်းအလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲမှုလျှော့ချရေးကို အထောက်အကူပြုနိုင်မည်ဖြစ်၍ CMP စနစ်ဖြင့် အမျိုးသမီး အတွင်းခံဝတ်အမျိုးမျိုးအား တစ်စိတ်တစ်ပိုင်းချုပ်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက်သင့်ပါကြောင်း တင်ပြအပ်ပါသည်။

(signature) ၂၁/၈/၂၀၁၆

ဥက္ကဋ္ဌ(ကိုယ်စား)

(မောင်မောင်ကျော်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

(အလုပ်သမား၊လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန)

D:\NPT(ET)\2016\CMP & MIC\CMP(8-2016)\TO MIC.docx

